ကုမ္ပဏီအမည် - Nippon Sanshikai Medical Services Center Co., Ltd.

လုပ်ငန်း - Private Medical Clinic and Diagnosis Services

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက်ရရှိ သည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | ကုမ္ပဏီမှအဆိုပြုလွှာတင်ပြလာခြင်း | ၃၀-၁၂-၂၀၁၆ | | |
| ၂ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး ၄/၂၀၁၇ သို့တင်ပြခြင်း | ၂၃-၁-၂၀၁၇ | | |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး ဆုံးဖြတ်ချက်ပေးပို့ခြင်း | ၃၀-၁-၂၀၁၇ | | |
| ၄ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | (က) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ (ပ-ကြိမ်) | ၃၀-၁-၂၀၁၇ | ၂၀-၂-၂၀၁၇ | |
| | ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ (ဒု-ကြိမ်) | ၂၄-၂-၂၀၁၇ | ၁၆-၃-၂၀၁၇ | |
| | ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ (တ-ကြိမ်) | ၂၀-၃-၂၀၁၇ | ၃၁-၃-၂၀၁၇ | |
| | (ခ) ကျန်းမာရေးနှင့်အားကစားဝန်ကြီးဌာန | ၃၀-၁-၂၀၁၇ | ၁၄-၃-၂၀၁၇ | |
| | (ဂ) သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန | ၃၀-၁-၂၀၁၇ | ၁၅-၂-၂၀၁၇ | |
| ၅ | ကုမ္ပဏီသို့ဌာနဆိုင်ရာသဘောထားမှတ်ချက်များအရ ပြင်ဆင်တင်ပြရန်အကြောင်းကြားခြင်း | ၂၄-၃-၂၀၁၇ | | |
| ၆ | ကုမ္ပဏီမှလိုအပ်ချက်များပြင်ဆင်တင်ပြလာခြင်း | ၂၄-၄-၂၀၁၇ | | |
| ၇ | ကော်မရှင်အစည်းအဝေးသို့တင်ပြခြင်း(၇/၂၀၁၇) MIC | ၂၈-၄-၂၀၁၇ | | |
| | **စုစုပေါင်းကြာမြင့်ရက် ၈၂ ရက်** | | | |

ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Nippon Sanshikai Medical Services Center Co., Ltd. မှ Private Medical Clinic and Diagnosis Services ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြလာခြင်းကိစ္စ

| စဉ် | ကုမ္ပဏီအမည် | လုပ်ငန်းအမျိုးအစား | PAT အကြိမ် နေ့စွဲ | ဆွေးနွေးချက်မှ ပြင်ဆင်ရန်လိုအပ်ချက် | ဆောင်ရွက်ပြီးစီးမှု | မှတ်ချက် |
|---|---|---|---|---|---|---|
| ၁ | ၂ | ၃ | ၄ | ၅ | ၆ | ၇ |
| ၁။ | Nippon Sanshikai Medical Services Center Co., Ltd. | Private Medical Clinic and Diagnosis Services | ၄/၂၀၁၇ ၂၃-၁-၂၀၁၇ | (က) မြေငှားစာချုပ်(မူကြမ်း) အား ပြန်လည်စိစစ်တင်ပြရန်<br>(ခ) ဒါရိုက်တာအဖွဲ့၏ ဆုံးဖြတ်ချက် တင်ပြရန် | ပြင်ဆင်ပြီး<br>ပြင်ဆင်ပြီး | |

| | | |
|---|---|---|
| ကုမ္ပဏီအမည် | - | Nippon Sanshikai Medical Services Center Co., Ltd. |
| အဖွဲ့အစည်းပုံသဏ္ဌာန် | - | ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | - | Private Medical Clinic and Diagnosis Services |
| တည်နေရာ | - | ရန်ကုန်တိုင်းဒေသကြီး၊ ဗဟန်းမြို့နယ်၊ တက္ကသိုလ်ရိပ်မွန် (၂)လမ်း၊ အမှတ်-(အီး/၂)၊ မြေတိုင်းရပ်ကွက်အမှတ်-(၃၅/ဘီ)၊ မြေကွက်အမှတ်(၂)၊ မြေဧရိယာ (၀.၁၃၅) ဧက ပေါ်ရှိ (၅၄၆.၃၃ စတုရန်းမီတာ) ကျယ်ဝန်းသော (၃)ထပ်လုံးချင်း အဆောက်အဦ |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - | US$ ၁.၂၅ သန်း |
| ဝန်ဆောင်မှုပေးမည့်စနစ် | - | ပြည်တွင်းဝန်ဆောင်မှု ၁၀၀% |
| လုပ်ငန်းသက်တမ်း | - | ကနဦး ၅၀ နှစ်( သက်တမ်းတိုး ၁၀ နှစ်၊ နှစ်ကြိမ်) |
| အရင်းကြေကာလ | - | ၆ နှစ် ၈ လ |
| IRR | - | ၁၄.၂၆ % |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစု တင်ပြအပ်ပါသည် -

| စဥ် | အကြောင်းအရာ | Cost | Benefit |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်း၏လစာ | ကျပ် ၃.၀၀ သန်း(တစ်နှစ်) | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | | ကျပ် ၀.၅ သန်း |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ကျပ် ၅၃.၂၅ သန်း | |
| ၄ | ဝင်ငွေခွန် | ကျပ် ၄၉၁.၆၃ သန်း | ကျပ် ၁,၃၆၇.၃၉ သန်း |
| ၅ | လောင်စာဆီ | | ကျပ် ၉၁.၉၀ သန်း |
| ၆ | လျှပ်စစ်မီးသုံးစွဲခ | | ကျပ် ၁၂၇.၃၃ သန်း |
| ၇ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | | တစ်နှစ်ဝင်ငွေကျပ် (၄၈) သိန်း ကျော်ပါက အခွန်ပေးရမည့်ဝန်ထမ်း (၁၈) ဦး |
| ၈ | မြေနှင့်အဆောက်အဦး ငှားရမ်းခရငွေ | | ကျပ် ၈၆၂.၅၀ သန်း |
| ၉ | CSR (၂%) | | ကျပ် ၉၂.၃၀ သန်း |
| ၁၀ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်း ၄၇ ဦး/ ပြည်ပ ၅ ဦး |
| | | | ပြည်တွင်းလုပ်သား (၄၇) ဦး အလုပ်အကိုင် ရရှိမည်ဖြစ်၍ ဒေသအလုပ် အခွင့်အလမ်း နှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုကို အထောက် အကူပြုစေပါသည်။ |
| | စုစုပေါင်း | ကျပ် ၅၄၇.၈၈ သန်း | ကျပ် ၂,၅၄၁.၉၂ သန်း |
| | | ၁း၄ | |

**ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Nippon Sanshikai Medical Services Center Co., Ltd. မှ Private Medical Clinic and Diagnosis Services လုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ**

| | | | | |
|---|---|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - Nippon Sanshikai Medical Services Center Co., Ltd. | | |
| ၂။ | လုပ်ငန်းအဆိုပြုသူအမည် | - MR. NAOMI UMENAI | | |
| ၃။ | ရင်းနှီးမြှုပ်နှံမှုပုံစံ | - ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>- Social Medical Corporation Sanshikai (ဂျပန်) ၄၅ %<br>- Hoken Kagaku Kenkyujo (ဂျပန်) ၃၅ %<br>- ဦးအောင်ကျော်မြင့် (မြန်မာ) ၂၀ % | | |
| ၄။ | အဆိုပြုလုပ်ငန်းအမျိုးအစား | - Private Medical Clinic and Diagnosis Services (ပုဂ္ဂလိကဆေးကုခန်းနှင့်ရောဂါရှာဖွေစမ်းသပ်ရေးဆိုင်ရာ ဝန်ဆောင်မှုလုပ်ငန်း) | | |
| ၅။ | လုပ်ငန်းနေရာ/<br>မြေအကျယ်အဝန်း | - ရန်ကုန်တိုင်းဒေသကြီး၊ ဗဟန်းမြို့နယ်၊ တက္ကသိုလ်ရိပ်မွန် (၂)လမ်း၊ အမှတ်-(အီး/၂)၊ မြေတိုင်းရပ်ကွက်အမှတ်-(၃၅/ဘီ)၊ မြေကွက်အမှတ်(၂)၊ မြေဧရိယာ (၀.၁၃၅) ဧက ပေါ်ရှိ (၅၄၆.၃၃ စတုရန်းမီတာ) ကျယ်ဝန်းသော (၃)ထပ်လုံးချင်း အဆောက်အဦ | | |
| | မြေနှင့်အဆောက်အဦပိုင်ရှင် | - ဦးကြည်စိုး | | |
| | ငှားရမ်းကာလ | - ကနဦး(၁၀ နှစ်) | | |
| | ငှားရမ်းခ(နှစ်စဉ်) | - တစ်စတုရန်းမီတာလျှင်(US$ ၁၂၀.၈၁) | | |
| ၆။ | မတည်ရင်းနှီးငွေပမာဏ | **- အမေရိကန်ဒေါ်လာ (၁.၂၅၂) သန်း** | | |
| | **ထည့်ဝင်မည့်အမျိုးအစား** | **နိုင်ငံခြား US$(သန်း)** | **မြန်မာ US$(သန်း)** | **စုစုပေါင်း US$(သန်း)** |
| | ငွေသား | ၀.၁၅၀ | ၀.၀၀၈ | ၀.၁၅၈ |
| | စက်နှင့်စက်ပစ္စည်း | ၀.၈၅၂ | - | ၀.၈၅၂ |
| | အဆောက်အဦများ ပြင်ဆင်ရန် ကုန်ကျစရိတ် | - | ၀.၁၇၅ | ၀.၁၇၅ |
| | မော်တော်ကား(ပြည်တွင်းဝယ်) | - | ၀.၀၃၉ | ၀.၀၃၉ |
| | ပရိဘောဂနှင့်လုပ်ငန်းသုံး ပစ္စည်းများတန်ဖိုး(ပြည်တွင်းဝယ်) | - | ၀.၀၂၈ | ၀.၀၂၈ |
| | **စုစုပေါင်း** | **၁.၀၀၂** | **၀.၂၅၀** | **၁.၂၅၂** |
| ၇။ | တည်ဆောက်ရေးကာလ | - ၆ လ | | |
| ၈။ | ဝန်ဆောင်မှု (ဆဋ္ဌမမြောက်နှစ်)<br>ဝန်ဆောင်မှုအမျိုးအစား | **ဝန်ဆောင်မှု အမျိုးအစား** | **အရေအတွက်** | **ဝန်ဆောင်ခနှုန်း (ကျပ်)** |
| | | Lab | ၁၃,၄၂၀ | ၄၆,၂၀၀ |
| | | X- Ray | ၄,၄၀၀ | ၁၂,၅၀၀ |

| | | |
|---|---|---|
| | | Utrasound ၄,၄၀၀ ၁၂,၅၀၀<br>ECG ၄,၄၀၀ ၁၂,၅၀၀<br>Endoscopy ၂၇၅ ၂၀၀,၀၀၀ |
| ၉။ | ကုမ္ပဏီ၏(ဆဌမမြောက်နှစ)<br>ဝင်ငွေ<br>အသုံးစရိတ်<br>အသားတင်အမြတ် | ကျပ် ၈၄၀.၀၀ သန်း<br>ကျပ် ၃၃၁.၄၄ သန်း<br>ကျပ် ၅၀၈.၅၆ သန်း |
| ၁၀။ | နိုင်ငံတော်မှရရှိမည့်<br>(ဆဌမမြောက်နှစ်)<br>အကျိုးအမြတ်<br>ဝင်ငွေခွန် | - ကျပ် ၁၂၇.၁၄ သန်း |
| ၁၁။ | ဝန်ထမ်းအင်အား | - ပြည်တွင်း ၄၇ ဦး(ပြည်တွင်းလုပ်သားတစ်ဦး၏ အနိမ့်ဆုံးလစာ မှာ ကျပ် ၁၂၀,၀၀၀ ဖြစ်ပြီး၊ အမြင့်ဆုံးလစာ မှာ ကျပ် ၁,၂၀၀,၀၀၀ ဖြစ်ပါသည်။)<br>- ပြည်ပ ၅ ဦး(ပြည်ပလုပ်သားတစ်ဦး ၏ အနိမ့်ဆုံးလစာမှာ US$ ၈၅၀၊ အမြင့်ဆုံးလစာမှာ US$ ၁,၈၀၀ ဖြစ်ပါသည်။) |
| ၁၂။ | အရင်းကြေကာလ | - ၆ နှစ် ၈ လ |
| ၁၃။ | အရင်းအနှီးပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) | - ၁၄.၂၆ % |
| ၁၄။ | ငွေကြေးအထောက်အထား | -ငွေကြေးအထောက်အထား အဖြစ် (၁၉-၁၂-၂၀၁၆) ရက်စွဲဖြင့် United Amara Bank ၌ ဒါရိုက်တာ ဦးအောင်ကျော်မြင့် အမည်ဖြင့် ကျပ် ၅၃,၃၈၆,၅၃၈.၂၇ ရှိကြောင်း တင်ပြထားပါသည်။ |
| ၁၅။ | ကုမ္ပဏီမှ ဆောင်ရွက်မည့် CSR | - CSR လုပ်ငန်းများအတွက် အသားတင်အမြတ်ငွေ၏ ၂ % အသုံးပြုသွားမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ |
| ၁၆။ | မီးဘေးကာကွယ်ထားရှိမှုအစီအစဉ် | - မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်ရေးစီမံချက် ရေးဆွဲ တင်ပြထားပါသည်။ |
| ၁၇။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု | - ၁၂,၀၀၀ kWh |
| ၁၈။ | သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးအစီအစဉ် | - သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ သဘောထားမှတ်ချက်အတိုင်း လိုက်နာဆောင်ရွက်ပါမည်ဟု ဝန်ခံကတိပြုထားပါသည်။ |
| ၁၉။ | အခြားတင်ပြချက်များ | - Nippon Sanshikai Medical Services Center Co., Ltd. နှင့် ဦးကြည်စိုး တို့ချုပ်ဆိုမည့် တိုက်ခန်း ငှားရမ်းခြင်း စာချုပ် |



Salient

| | | |
|---|---|---|
| | | (မူကြမ်း)၊ ဖက်စပ်စာချုပ်(မူကြမ်း)၊ သင်းဖွဲ့ မှတ်တမ်းနှင့်သင်းဖွဲ့ စည်းမျဉ်း(မူကြမ်း)တို့ကို တင်ပြထားပါသည်။ |
| ၂၀။ | စိစစ်တင်ပြချက် | - အဆိုပြုလုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်ပမှ အမေရိကန်ဒေါ်လာ ၀.၈၅၂ သန်း တန်ဖိုးရှိ ဆေးရုံသုံး စက်နှင့်စက်ပစ္စည်းတင်သွင်းမည် ဖြစ်ပါသည်။ အခွန်အကောက် ကင်းလွတ်ခွင့်နှင့် သက်သာခွင့် ခံစားနိုင်မည်ဖြစ်ကြောင်း စိစစ်ရပါသည်။<br>- ကော်မရှင်ခွင့်ပြုမိန့်ရရှိပါက ကျန်းမာရေးနှင့်အားကစားဝန်ကြီးဌာနသို့ သက်ဆိုင်ရာ လုပ်ငန်းလိုင်စင် လျှောက်ထားရန်လိုအပ်ပါသည်။<br>- အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၆ ခုနှစ် နိုဝင်ဘာလ ၁၆ ရက်နေ့ ရက်စွဲပါ အမိန့်ကြော်ငြာစာ အမှတ် ၁၂၃/၂၀၁၆ အရ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ အဆိုပြုချက် တင်ပြလာခြင်းဖြစ်ပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊မရက - ၅(အ)/န-၀၃၀/၂၀၁၇( ၁၈၂)
ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊ ဧပြီလ ၂၅ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့**
**တင်ပြသည့် အမှာစာ**

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Nippon Sanshikai Medical Services Center Co., Ltd. မှ Private Medical Clinic and Diagnosis Services လုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြလာခြင်းကိစ္စ**

၁။ ဂျပန်နိုင်ငံ Social Medical Corporation Sanshikai မှ ၄၅%၊ ဂျပန်နိုင်ငံ Hoken Kagaku Kenkyujo မှ ၃၅% နှင့် မြန်မာနိုင်ငံသား ဦးအောင်ကျော်မြင့် မှ ၂၀% ထည့်ဝင်၍ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Nippon Sanshikai Medical Services Center Co., Ltd. တည်ထောင်ပြီး ရန်ကုန်တိုင်းဒေသကြီး၊ ဗဟန်းမြို့နယ်၊ တက္ကသိုလ်ရိပ်မွန် (၂)လမ်း၊ အမှတ်-(အီး/၂)၊ မြေတိုင်းရပ်ကွက်အမှတ်-(၃၅/ဘီ)၊ မြေကွက်အမှတ်(၂)၊ မြေဧရိယာ (၀.၁၃၅) ဧက ပေါ်ရှိ (၅၄၆.၃၃ စတုရန်းမီတာ) ကျယ်ဝန်းသော (၃)ထပ်လုံးချင်း အား ငှားရမ်း၍ Private Medical Clinic and Diagnosis Services လုပ်ငန်း ကို နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် သို့ တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ Nippon Sanshikai Medical Services Center Co., Ltd. နှင့် ဦးကြည်စိုး တို့ချုပ်ဆိုမည့် မြေနှင့်အဆောက်အဦ ငှားရမ်းခြင်းစာချုပ်(မူကြမ်း)၊ ဖက်စပ်စာချုပ် (မူကြမ်း)၊ သင်းဖွဲ့ မှတ်တမ်းနှင့်သင်းဖွဲ့စည်းမျဉ်း(မူကြမ်း) တို့ကို ပူးတွဲတင်ပြထားပါသည်။

၃။ လုပ်ငန်းဆောင်ရွက်မည့် ရန်ကုန်တိုင်းဒေသကြီး၊ ဗဟန်းမြို့နယ်၊ တက္ကသိုလ်ရိပ်မွန် (၂)လမ်း၊ အမှတ်-(အီး/၂)၊ မြေတိုင်းရပ်ကွက်အမှတ်-(၃၅/ဘီ)၊ မြေကွက်အမှတ်(၂)၊ မြေဧရိယာ (၀.၁၃၅) ဧက ပေါ်ရှိ (၅၄၆.၃၃ စတုရန်းမီတာ) ကျယ်ဝန်းသော (၃)ထပ်လုံးချင်း အဆောက်အဦ အား တစ်နှစ်လျှင် အမေရိကန် ဒေါ်လာ ၆၆,၀၀၀ နှုန်းဖြင့် (၁၀)နှစ် ငှားရမ်းဆောင်ရွက်မည် ဖြစ်ပါသည်။

၄။ လုပ်ငန်းသက်တမ်းကာလမှာ ကနဦး နှစ်(၅၀)နှင့် ၁၀ နှစ် ၂ ကြိမ် သက်တမ်းတိုး ဆောင်ရွက်မည်ဖြစ်ပြီး တည်ဆောက်ရေး ကာလမှာ (၆)လ ဖြစ်ပါသည်။

၅။ အဆိုပြုလုပ်ငန်း၏ စုစုပေါင်းမတည်ငွေရင်းပမာဏမှာ အမေရိကန်ဒေါ်လာ ၁.၂၅ သန်း ဖြစ်ပြီး ဆေးရုံသုံးစက်နှင့်စက်ပစ္စည်းတန်ဖိုး အမေရိကန်ဒေါ်လာ ၀.၈၅၂ သန်း ကို ပြည်ပမှ တင်သွင်း မည်ဖြစ်ပါသည်။ ရင်းနှီးမြှုပ်နှံမှု အခြေအနေမှာ တစ်ဖက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | ထည့်ဝင်မည့်အမျိုးအစား | နိုင်ငံခြား US$(သန်း) | မြန်မာ US$(သန်း) | စုစုပေါင်း US$(သန်း) |
|---|---|---|---|---|
| (က) | ငွေသား | ၀.၁၅၀ | ၀.၀၀၈ | ၀.၁၅၈ |
| (ခ) | စက်နှင့်စက်ပစ္စည်း | ၀.၈၅၂ | - | ၀.၈၅၂ |
| (ဂ) | အဆောက်အဦများ ပြင်ဆင်ရန် ကုန်ကျစရိတ် | - | ၀.၁၇၅ | ၀.၁၇၅ |
| (ဃ) | မော်တော်ကား (ပြည်တွင်းဝယ်) | - | ၀.၀၃၉ | ၀.၀၃၉ |
| (င) | ပရိဘောဂနှင့်လုပ်ငန်းသုံး ပစ္စည်းများတန်ဖိုး (ပြည်တွင်းဝယ်) | - | ၀.၀၂၈ | ၀.၀၂၈ |
| | **စုစုပေါင်း** | **၁.၀၀၂** | **၀.၂၅၀** | **၁.၂၅၂** |

(အမေရိကန် ၁ဒေါ်လာလျှင် ကျပ်၁,၂၅၀ နှုန်းဖြင့် တွက်ချက်ထားပါသည်။)

၆။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းဝန်ထမ်း (၄၇)ဦးနှင့် ပြည်ပဝန်ထမ်း(၅)ဦး စုစုပေါင်း (၅၂)ဦး ခန့်ထားမည်ဖြစ်ပါသည်။ ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာမှာ ကျပ် ၁၂၀,၀၀၀ နှင့် အမြင့်ဆုံး လစာမှာ ကျပ် ၁,၂၀၀,၀၀၀ ဖြစ်ပြီး ပြည်ပဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာမှာ အမေရိကန်ဒေါ်လာ ၈၅၀ နှင့် အမြင့်ဆုံးလစာမှာ အမေရိကန်ဒေါ်လာ ၁,၈၀၀ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှာ ကျန်းမာရေးဆိုင်ရာ စစ်ဆေးမှုများ ပြုလုပ်ပေးခြင်း၊ ကျွမ်းကျင်ဝန်ထမ်းများဖြင့် ရောဂါရှာဖွေခြင်း၊ လိုအပ်သော ဆေးဝါးကုသမှုပေးခြင်းနှင့်ဆိုင်သော ဝန်ဆောင်မှုလုပ်ငန်းများကို ဆောင်ရွက်မည် ဖြစ်ပါသည်။

၈။ အဆိုပြုလုပ်ငန်း၏ (ဆဋ္ဌမမြောက်နှစ်) ဝန်ဆောင်မှုပေးမည့် အမျိုးအစား နှင့် ဝန်ဆောင်ခနှုန်းမှာ အောက်ပါအတိုင်းဖြစ်ပါသည် -

| ဝန်ဆောင်မှုအမျိုးအစား | အရေအတွက် | ဝန်ဆောင်ခနှုန်း(ကျပ်) |
|---|---|---|
| Lab | ၁၃,၄၂၀ | ၄၆,၂၀၀ |
| X- Ray | ၄,၄၀၀ | ၁၂,၅၀၀ |
| Utrasound | ၄,၄၀၀ | ၁၂,၅၀၀ |
| ECG | ၄,၄၀၀ | ၁၂,၅၀၀ |
| Endoscopy | ၂၇၅ | ၂၀၀,၀၀၀ |

၉။ ဤလုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (ဆဋ္ဌမမြောက်နှစ်) တွင် ရရှိမည့်ကုမ္ပဏီ၏ ဝင်ငွေ နှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ တစ်ဖက်ပါအတိုင်း ဖြစ်ပါသည် -

| | | ကျပ် (သန်း) |
|---|---|---|
| (က) | ဝင်ငွေ | ၈၄၀.၀၀ |
| (ခ) | အသုံးစရိတ် | ၃၃၁.၄၄ |
| (ဂ) | အသားတင်အမြတ် | ၅၀၈.၅၆ |

၁၀။ ဤလုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ် (ဆဋ္ဌမမြောက်နှစ်) တွင် ရရှိမည့် အကျိုး အမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် ကျပ် ၁၂၇.၁၄ သန်း ဖြစ်ပါသည်။ အရင်းကြေကာလမှာ ၆နှစ် ၈ လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း IRR မှာ ၁၄.၂၆ % ဖြစ်ပါသည်။

၁၁။ အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာ ဝန်ကြီးဌာနများနှင့် အဖွဲ့အစည်းများသို့ သဘောထားတောင်းခံခဲ့ရာ အောက်ပါအတိုင်း ပြန်ကြားလာပါသည်-

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့** မှ ရန်ကုန်တိုင်းဒေသကြီး၊ ဗဟန်းမြို့နယ်၊ တက္ကသိုလ်ရိပ်မွန် (၂)လမ်း၊ အမှတ်-(အီး/၂)၊ မြေတိုင်းရပ်ကွက်အမှတ်-(၃၅/ဘီ)၊ မြေကွက်အမှတ်(၂)၊ မြေဧရိယာ (၀.၁၃၅) ဧက ပေါ်ရှိ (၅၄၆.၃၃ စတုရန်းမီတာ) ကျယ်ဝန်းသော (၃)ထပ်လုံးချင်း အား ငှားရမ်းပြီး Private Medical Clinic and Diagnosis Services လုပ်ငန်း အား (၃၀-၃-၂၀၁၇) ရက်နေ့တွင် ကျင်းပသော ရန်ကုန်တိုင်း ဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၁၃/၂၀၁၇)၊ ဆုံးဖြတ်ချက် အပိုဒ် (၂၄)အရကန့်ကွက်ရန်မရှိပါကြောင်းပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ-က**

(ခ) **သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန** မှ အဆိုပြု လုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက် များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှု အနည်း ဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility – CSR)အတွက် အသားတင်အမြတ်ငွေ၏(၂%) ကို အသုံးပြုခြင်း အပါအဝင်ဆောင် ရွက်ပေးသွားမည့် ကတိကဝတ်များကို တိတိကျကျလိုက်နာ အကောင်အထည်ဖော် ဆောင်ရွက်ရန်၊ အဆိုပြုလုပ်ငန်းကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေးမထိခိုက် စေရေး (သို့မဟုတ်) ထိခိုက်မှု အနည်းဆုံးဖြစ်စေရေးအတွက် **ကနဦးပတ်ဝန်းကျင် ဆန်းစစ်ခြင်း ( Initial Environmental Examination- IEE)** ကို ဆောင်ရွက်ပြီး ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များ ပါအတိုင်း အစီရင်ခံစာ ရေးသားတင်ပြရန်၊ အဆိုပါ လေ့လာ ဆန်းစစ်မှုရလဒ်များကို အခြေခံ၍

ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှု မဖြစ်ပေါ်စေရေး(သို့မဟုတ်)ထိခိုက်မှု အနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ် စွန့်ပစ်ပစ္စည်း၊ စွန့်ပစ် အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှု စစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေစသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP)** ကို ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲ တင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်၊ စီမံကိန်း ဆောင်ရွက်မည့်သူများအနေဖြင့် ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း၊ ပတ်ဝန်းကျင် ထိခိုက်မှုဆန်းစစ်ခြင်းနှင့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှု အစီစဉ်များ၊ အစီရင်ခံစာများ ရေးသားပြုစုရာတွင် ပြဋ္ဌာန်းထုတ်ပြန်ထားပြီးဖြစ်သော ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး(ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင် ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်ရမည့် အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန် သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။

**နောက်ဆက်တွဲ-ခ**

(ဂ) **ကျန်းမာရေးနှင့်အားကစားဝန်ကြီးဌာနမှ** ပုဂ္ဂလိကကျန်းမာရေးလုပ်ငန်းဆိုင်ရာ ဥပဒေ၊ နည်းဥပဒေများနှင့်အညီဆောင်ရွက်မည်ဆိုပါက ကန့်ကွက်ရန် မရှိပါကြောင်း၊ ပြည်တွင်း/ ပြည်ပမှ ပညာရှင်များ ဖိတ်ခေါ်၍ ဆောင်ရွက်မည်ဆိုပါက မြန်မာနိုင်ငံဆေးကောင်စီ၏ လုပ်ထုံးလုပ်နည်းများနှင့်အညီ ဆောင်ရွက်ရန် လိုအပ်ကြောင်း သဘောထားမှတ်ချက်ပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ- ဂ**

၁၂။ ငွေကြေးအထောက်အထားအဖြစ် (၁၉-၁၂-၂၀၁၆) ရက်စွဲဖြင့် United Amara Bank ၌ ဒါရိုက်တာ ဦးအောင်ကျော်မြင့် အမည်ဖြင့် ကျပ် ၅၃,၃၈၆,၅၃၈.၂၇ ရှိကြောင်း တင်ပြထားပါသည်။

၁၃။ မီးဘေးကာကွယ်ရေးအစီအစဉ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သန့်ရှင်းသာယာရေး စီမံချက်၊ လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းသက်သာချောင်ချိရေးစီမံချက်များ၊ CSR အနေဖြင့် လုပ်ငန်းလည်ပတ်မှုမှရရှိမည်ဟု ခန့်မှန်းထားသည့် အသားတင်အမြတ်ငွေမှ ၂ % ကို အသုံးပြုဆောင်ရွက်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၄။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုပါရန် တင်ပြထားပါသည်။

၁၅။ အဆိုပြုလုပ်ငန်းအား ၂၀၁၇ ခုနှစ် ဇန်နဝါရီလ ၂၃ ရက်နေ့တွင် ကျင်းပပြုလုပ်သော အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ (၄/၂၀၁၇) အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

**စိစစ်တင်ပြချက်**

၁၆။ အဆိုပြုလုပ်ငန်းနှင့်စပ်လျဥ်း၍ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်ပမှ အမေရိကန်ဒေါ်လာ ၀.၈၅၂ သန်း တန်ဖိုးရှိ ဆေးရုံသုံး စက်နှင့်စက်ပစ္စည်းတင်သွင်းမည်ဖြစ်ပါသည်။ အခွန်အကောက် ကင်းလွတ် ခွင့်နှင့် သက်သာခွင့်ခံစားနိုင်မည်ဖြစ်ကြောင်း စိစစ်ရပါသည်။

(ခ) ကော်မရှင်ခွင့်ပြုမိန့်ရရှိပါက ကျန်းမာရေးနှင့်အားကစားဝန်ကြီးဌာနသို့ သက်ဆိုင်ရာ လုပ်ငန်းလိုင်စင် လျှောက်ထားရန်လိုအပ်ပါသည်။

(ဂ) အဆိုပြုလုပ်ငန်းနှင့်စပ်လျဥ်း၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် ၏ ၂၀၁၆ ခုနှစ် နိုဝင်ဘာလ ၁၆ ရက်နေ့ ရက်စွဲပါ အမိန့်ကြော်ငြာစာ အမှတ် ၁၂၃/၂၀၁၆ အရ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ အဆိုပြုချက် တင်ပြလာခြင်းဖြစ်ပါသည်။

(ဃ) ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့် ဥပဒေရေးရာ ဌာနခွဲမှ ကော်မရှင် ခွင့်ပြုမိန့်နှင့် အမိန့်ကြော်ငြာစာ(မူကြမ်း) အား ဥပဒေနှင့်ညီညွတ်မှု ရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

(င) အဆိုပြုလုပ်ငန်းနှင့် စပ်လျဥ်း၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ဖက်စပ် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် အောက်ပါ ကျန်းမာရေးဝန်ဆောင်မှုလုပ်ငန်းများအား ခွင့်ပြုမိန့်ထုတ်ပေးခဲ့ပြီး ဖြစ်ပါသည်-

| စဉ် | ကုမ္ပဏီအမည် | ခွင့်ပြုမိန့် အမှတ် / ရက်စွဲ | လုပ်ငန်း အမျိုးအစား | တည်နေရာ | ရင်းနှီး မြှုပ်နှံမှု ပုံစံ |
|---|---|---|---|---|---|
| ၁ | Bumrungrad Myanmar Company Limited | ၁၀၁၆/၂၀၁၅ (၂၅-၉-၂၀၁၅) | ကျန်းမာရေး စောင့်ရှောက်မှု နှင့် ဆေးကု သရေး ဝန်ဆောင်မှု များ အပါ အဝင် ပုဂ္ဂလိက ဆေးခန်းနှင့် ရောဂါရှာဖွေ | ရန်ကုန်တိုင်း ဒေသကြီး၊ ဒဂုံမြို့နယ်၊အမှတ် (၇၇) ပြည်ထောင်စု ရိပ်သာလမ်း | ဖက်စပ် |

| စဉ် | ကုမ္ပဏီအမည် | ခွင့်ပြုမိန့် အမှတ် / ရက်စွဲ | လုပ်ငန်း အမျိုးအစား | တည်နေရာ | ရင်းနှီး မြှုပ်နှံမှု ပုံစံ |
|---|---|---|---|---|---|
| | | | ရေးဆိုင်ရာ ဝန်ဆောင်မှု လုပ်ငန်း | | |
| ၂ | World Lab Myanmar Company Limited | ၁၁၃၈/၂၀၁၆ (၂၃-၇-၂၀၁၆) | Dental Restorations | ရန်ကုန်တိုင်းဒေသကြီး၊ အင်းစိန်မြို့နယ်၊ ပြည်လမ်း၊ စော်ဘွားကြီးကုန်းရပ်ကွက်၊ အမှတ် - ၁၃၀-က၊ မြေကွက်အမှတ် ၁/စ<sup>က-ဃ</sup>၊ မြေတိုင်းရပ်ကွက် အမှတ်- ၃၉၄၊ | ဖက်စပ် |
| ၃ | Pioneer Asian Specialty Clinics Limited | ၁၂၄၅/၂၀၁၇ (၁၁-၄-၂၀၁၇) | Eye Care Clinic including eye care treatment& other related services | ရန်ကုန်တိုင်းဒေသကြီး၊ ပုဇွန်တောင် မြို့နယ်၊ အမှတ်(၁)ရပ်ကွက်၊ (၅၂)လမ်းနှင့် အနော်ရထာလမ်းထောင့်၊ အနော်ရထာလမ်း၊ အမှတ်(၉၅) မြေညီထပ်၊ အခန်းအမှတ် (၀၀၁)၊ (၀၀၂)၊(၀၀၃)၊ (၀၀၄)နှင့် ပထမထပ်၊ အခန်းအမှတ် (၁၀၁)၊(၁၀၂)၊(၁၀၃)၊ | ဖက်စပ် |

| စဉ် | ကုမ္ပဏီအမည် | ခွင့်ပြုမိန့် အမှတ် / ရက်စွဲ | လုပ်ငန်း အမျိုးအစား | တည်နေရာ | ရင်းနှီး မြှုပ်နှံမှု ပုံစံ |
|---|---|---|---|---|---|
| | | | | (၁၀၄) ရှိ စုစုပေါင်း(၆၀၀၀)စ တုရန်းပေကျယ်ဝန်း သော အခန်း(၈)ခန်း | |

**ဆုံးဖြတ်ရန်အချက်**

၁၇။ သို့ဖြစ်ပါ၍ Nippon Sanshikai Medical Services Center Co., Ltd. မှ ဖက်စပ် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Private Clinic and Diagnosis Services လုပ်ငန်း အား နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စအပေါ် ကော်မရှင်မှ ခွင့်ပြုမိန့်ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

## ကုမ္ပဏီဒါရိုက်တာနှင့်အစုရှင်များ၏နေရပ်လိပ်စာစာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/အစုရှင်များ၏အမည် | ဒါရိုက်တာ/အစုရှင်များ၏ ဆက်သွယ်ရန်လိပ်စာ |
|---|---|---|---|
| ၁။ | Nippon Sanshikai Medical Services Center Co., Ltd. | (၁) Mr. Yoshimi Suzuki PP No. TK 6475730 | No.(232), Funako, Atsugi-shi, Kanagawa, Japan. |
| ၂။ | | (၂) Mr. Naomi Umenai PP No. TK 8550338 | No.(232), Funako, Atsugi-shi, Kanagawa, Japan. |
| ၃။ | | (၃) Mr. Satoshi Kugawa PP No. TR 4979605 | No.(106),Banchi, Godo-cho, Hodogayaku, Yokohama-shi, Japan. |
| ၄။ | | (၄) Mr.Taisuke Uchida PP No. MU 3426293 | No.(106),Banchi, Godo-cho, Hodogayaku, Yokohama-shi, Japan. |
| ၅။ | | (၅) U Aung Kyaw Myint 12/ Ma Ga Ta(N) 047523 | No.(448/450), 6 th Floor, Merchant Street, Ward No.(8), Botahtaung Township, Yangon Region. |

၁။ ဆက်သွယ်ရမည့်တယ်လီဖုန်းနံပါတ်၊ - ၀၉-၅၀၄၄၂၆၇

၂။ဆက်သွယ်ရမည့် လိပ်စာအပြည့်အစုံ - No.(448/450), 6 th Floor, Merchant Street, Ward No.(8), Botahtaung Township, Yangon Region.

၃။ ဆက်သွယ်ရမည့်ပုဂ္ဂိုလ်အမည်၊ရာထူး - ဦးအောင်ကျော်မြင့်၊ ဒါရိုက်တာ

၄။ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ - Private Clinic and Diagnosis Services (ပုဂ္ဂလိက ဆေးကုခန်းနှင့် ရောဂါရှာဖွေစမ်းသပ်ရေးဆိုင်ရာ ဝန်ဆောင်မှုလုပ်ငန်း)

၅။ကုမ္ပဏီမှတ်ပုံတင်အမှတ်/နေ့စွဲ -

၆။ ကုမ္ပဏီမှတ်ပုံတင် သက်တမ်းကုန်ဆုံးသည့်နေ့စွဲ -

၇။ ဘဏ်အမည်နှင့်ဘဏ်စာရင်းအမှတ် -




M4-0257
3.4.17

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် | နောက်ဆက်တွဲ-က

တိုင်းဒေသကြီးအစိုးရအဖွဲ့

ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၃ / ၆ - ၃ (၇) / တိုင်းရင်းသား

ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊ မတ်လ ၃၁ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံလာခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၁.၃.၂၀၁၇ ရက်စွဲပါစာအမှတ်၊ မရက-၅(အ)/ န-၀၃၀/၂၀၁၇(၁၂၉-က)

၁။ ဂျပန်နိုင်ငံ Social Medical Corporation Sanshikai မှ ၄၅%၊ ဂျပန်နိုင်ငံ Hoken Kagaku Kenkyujo မှ ၃၅% နှင့် မြန်မာနိုင်ငံသား ဦးအောင်ကျော်မြင့်မှ ၂၀% ထည့်ဝင်၍ မြန်မာနိုင်ငံတွင် Nippon Sanshikai Medical Services Center Co., Ltd. တည်ထောင်ကာ ရန်ကုန်တိုင်းဒေသကြီး၊ မိုလ်တထောင်မြို့နယ်၊ (၈)ရပ်ကွက်၊ မိုလ်ကလေးဈေးလမ်း၊ မြေညီထပ်၊ အမှတ် (၁၃၁)၊ မြေတိုင်းရပ်ကွက်အမှတ် ၁၄-ဂျီ၊ မြေကွက်အမှတ် (II 9 and Extra Strip at the North of II 9 and II 10, II 11)ရှိ (၁၈၉၀) စတုရန်းပေ ကျယ်ဝန်းသော အဆောက်အဦတွင် Private Clinic and Diagnosis Services (ပုဂ္ဂလိကဆေးကုခန်းနှင့် ရောဂါရှာဖွေစမ်းသပ်ရေး ဆိုင်ရာဝန်ဆောင်မှုလုပ်ငန်း)အား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုနည်းဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာမှုအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးနိုင်ပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ညှိနှိုင်းမေတ္တာရပ်ခံလာခြင်းနှင့်စပ်လျဉ်း၍ ၁၆.၂.၂၀၁၇ ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၇/၂၀၁၇)၊ ဆုံးဖြတ်ချက်အပိုဒ်(၇၄)အရ ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားပြန်ကြားခဲ့ပါသည်။

၂။ ကုမ္ပဏီမှ အဆိုပြုတင်ပြထားသည့် မူလမြေနှင့် အဆောက်အဦတည်နေရာအစား ရန်ကုန် တိုင်းဒေသကြီး၊ ဗဟန်းမြို့နယ်၊ မြေတိုင်းရပ်ကွက်အမှတ် (၃၅/ဘီ)၊ မြေကွက်အမှတ် (၂)အရ မြေဧရိယာ (၀.၁၃၅)ဧကပေါ်ရှိ အမှတ်-အီး/၂၊ တက္ကသိုလ်ရိပ်မွန်(၂)လမ်း၊ ဗဟန်းမြို့နယ်ဟု ခေါ်တွင်သော (၃)ထပ်လုံးချင်း အဆောက်အဦနေရာသို့ ပြောင်းလဲလုပ်ကိုင်ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာမှုအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ညှိနှိုင်းမေတ္တာရပ်ခံလာခြင်းနှင့်စပ်လျဉ်း၍ ၁၃.၃.၂၀၁၇ ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၁၀/၂၀၁၇)၊ ဆုံးဖြတ်ချက်အပိုဒ် (၂၁)အရ ကုမ္ပဏီအနေဖြင့် ကျန်းမာရေးနှင့်အားကစားဝန်ကြီးဌာန၏ သဘောထားမှတ်ချက်အားရယူ၍ အဆိုပြုချက်တွင် ပူးတွဲတင်ပြမှသာ သဘောထားမှတ်ချက် ပြန်ကြားနိုင်မည်ဖြစ်ပါကြောင်း ပြန်ကြားခဲ့ပါသည်။

D/2017/Cabinet/13 (1)

၃။ အဆိုပြုလုပ်ငန်း တည်နေရာပြောင်းလဲဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ ကျန်းမာရေးနှင့် အားကစား ဝန်ကြီးဌာနမှ ၂၀၁၇ ခုနှစ် မတ်လ ၁၄ ရက်နေ့ ရက်စွဲပါစာဖြင့် ကုမ္ပဏီမှ ပုဂ္ဂလိကကျန်းမာရေး လုပ်ငန်းဆိုင်ရာ ဥပဒေ၊ နည်းဥပဒေများနှင့်အညီ ဆောင်ရွက်မည်ဆိုပါက ကန့်ကွက်ရန်မရှိပါကြောင်း၊ ပြည်တွင်း/ပြည်ပ ပညာရှင်များဖိတ်ခေါ်၍ ဆောင်ရွက်မည်ဆိုပါက မြန်မာနိုင်ငံဆေးကောင်စီ လုပ်ထုံးလုပ်နည်းများနှင့်အညီ ဆောင်ရွက်ရန်လိုအပ်ကြောင်း ညှိနှိုင်းပြန်ကြားထားပါကြောင်း၊ သို့ဖြစ်ပါ၍ Nippon Sanshikai Medical Services Center Co., Ltd. မှ ရင်းနှီးမြှုပ်နှံမှုအရပ်ဒေသ ပြောင်းလဲလုပ်ကိုင်ဆောင်ရွက်ခွင့် တင်ပြလာမှုအပေါ် သဘောထားပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာပါသည်။

၄။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ ၃၀.၃.၂၀၁၇ ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့အစည်းအဝေးအမှတ်စဉ် (၁၃/၂၀၁၇)၊ ဆုံးဖြတ်ချက်အပိုဒ် (၂၄)အရ ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားပြန်ကြားအပ်ပါသည်။

ဝန်ကြီးချုပ် (ကိုယ်စား)
( နော်ပန်းသဉ္ဇာမြိုး၊ ကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး )

**မိတ္တူကို**

ရန်ကုန်တိုင်းဒေသကြီးကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး
ခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန၊ ရန်ကုန်(အရှေ့ပိုင်း/အနောက်ပိုင်း)ခရိုင်
မြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန၊ (မိုလ်တထောင်/ဗဟန်း)မြို့နယ်
Nippon Sanshikai Medical Services Center Co., Ltd.
လက်ခံစာတွဲ
မျှောစာတွဲ

/2017/Cabinet/13.(2)




MY-0110
16/2/17

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ၀၀၁/ MIC (OSS) / ၀၁(၅၁/၁၇)
ရက်စွဲ၊ ၂၀၁၇ ခုနှစ် ဖေဖော်ဝါရီလ ၁၅ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Nippon Sanshikai Medical Services Center Co., Ltd. မှ ပုဂ္ဂလိက ဆေးကုခန်းနှင့် ရောဂါရှာဖွေစမ်းသပ်ရေးဆိုင်ရာ ဝန်ဆောင်မှုလုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၃၀-၁-၂၀၁၇ ရက်စွဲပါ စာအမှတ်၊ မရက-၅(အ)/ န-၀၃၀/ ၂၀၁၇ (၀၅၁)

၁။ ဂျပန်နိုင်ငံ Social Medical Corporation Sanshikai မှ ၄၅%၊ ဂျပန်နိုင်ငံ Hoken Kagaku Kenkyujo မှ ၃၅% နှင့် မြန်မာနိုင်ငံသား ဦးအောင်ကျော်မြင့် မှ ၂၀% ထည့်ဝင်၍ မြန်မာနိုင်ငံတွင် Nippon Sanshikai Medical Services Center Co., Ltd. တည်ထောင်ကာ ရန်ကုန်တိုင်းဒေသကြီး၊ မိုလ်တစ်ထောင်မြို့နယ် (၈) ရပ်ကွက်၊ ဘိုကလေးဈေးလမ်း၊ မြေညီထပ်၊ အမှတ်- ၁၃၁၊ မြေတိုင်းရပ်ကွက်အမှတ်- ၁၄(ဂျီ)၊ မြေကွက်အမှတ်- II 9 and Extra Strip at the North of II 9 and II 10, II 11 ရှိ (၁,၈၉၀ စတုရန်းပေ) ကျယ်ဝန်းသော အဆောက်အဦတွင် Private Clinic and Diagnosis Services (ပုဂ္ဂလိကဆေးကုခန်းနှင့် ရောဂါရှာဖွေစမ်းသပ်ရေးဆိုင်ရာ ဝန်ဆောင်မှုလုပ်ငန်း) ကို နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု နည်းဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်စပ်လျဉ်း၍ စိစစ်ပြီး သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါ ပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာ အဆိုပြုလွှာအား စိစစ်ရာတွင် အောက်ပါအချက်များအား လေ့လာတွေ့ရှိရပါသည် -

(က) ပူးတွဲပေးပို့လာသော အဆိုပြုလွှာတွင် ရင်းနှီးမြှုပ်နှံမှုကာလမှာ နှစ် (၅၀) ဖြစ်ပြီး၊ သက်တမ်းတိုး (၁၀) နှစ် (၂) ကြိမ်ဆောင်ရွက်မည်ဖြစ်ကာ တည်ဆောက်ရေးကာလမှာ (၆) လ ဖြစ်ကြောင်း၊

(ခ) အဆိုပြုလုပ်ငန်းကို အမှတ်- ၁၃၁၊ ဘိုကလေးဈေးလမ်း၊ အဆောက်အဦရှိ မြေညီထပ်၏ (၁,၈၉၀ စတုရန်းပေ) တွင် ဖွင့်လှစ်ဆောင်ရွက်မည်ဖြစ်ပြီး ရောဂါရှာဖွေစမ်းသပ်မှုအတွက် ဓာတ်ခွဲခန်းပါ ပူးတွဲဖွင့်လှစ်မည် ဖြစ်သည့်အတွက် သက်ဆိုင်ရာဝန်ကြီးဌာနမှ ဆေးရုံတည်ထောင်ခွင့်နှင့် ကုသခွင့်လိုင်စင်လျှောက်ထားရန် လိုအပ်မည်ဖြစ်ပါကြောင်း၊

(ဂ) ဝန်ထမ်းများ သက်သာချောင်ချိရေး အစီအစဉ်များ၊ မီးဘေးကြိုတင်ကာကွယ်ရေး အစီအမံများကိုလည်း ထားရှိဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဃ) လုပ်ငန်းမှရရှိလာမည့် အသားတင်အမြတ်ငွေ၏ (၂%) ကို လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) လုပ်ငန်းများတွင် ထည့်ဝင်အသုံးပြုသွားမည်ဖြစ်ကြောင်း၊

(င) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် စပ်လျဉ်း၍ အဆိုပြုလုပ်ငန်းကြောင့် ပတ်ဝန်းကျင်ရှိ ရေထု၊ မြေထု၊ လေထု ညစ်ညမ်းမှု မဖြစ်ပေါ်စေရေးဆောင်ရွက်မည်ဖြစ်ကာ စွန့်ပစ်ပစ္စည်းများကို ကွဲရှပစ္စည်း၊ ကူးစက်ရောဂါဖြစ်ပွားစေနိုင်သည့်ပစ္စည်း၊ အထွေထွေစွန့်ပစ်ပစ္စည်းဟူ၍ ပစ္စည်းအမျိုးအစားအလိုက် WHO Standard နှင့်အညီ ခွဲခြားစွန့်ပစ်မည်ဖြစ်ပြီး စွန့်ပစ်အရည်နှင့် မိလ္လာများကြောင့် ပတ်ဝန်းကျင်အပေါ် ထိခိုက်ပျက်စီးမှုမရှိစေရန် bio-filter system နှင့် chlorination ပြုလုပ်ပြီးမှသာ စွန့်ပစ်သွားမည်ဖြစ်ကာ ပြဋ္ဌာန်းထုတ်ပြန်ထားပြီးဖြစ်သော ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ အမိန့်နှင့် ညွှန်ကြားချက်များကိုလိုက်နာဆောင်ရွက်သွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ ရင်းနှီးမြှုပ်နှံရန် အဆိုပြုလာသော လုပ်ငန်းဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ဖော်ပြပါ ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုများ ဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည် -

(က) Nippon Sanshikai Medical Services Center Co., Ltd. မှ Private Clinic and Diagnosis Services ကို ဆောင်ရွက်ရာတွင် ထွက်ရှိလာမည့် ဆေးခန်းနှင့်ဓါတ်ခွဲခန်းသုံးဘေးအန္တရာယ်ရှိ စွန့်ပစ်ဆေးပစ္စည်းများ၊ ဓာတုဗေဒပိုးသတ် ဆေးရည်များကြောင့် ပတ်ဝန်းကျင်ရှိ ရေထု၊ မြေထု ညစ်ညမ်းခြင်း၊

(ခ) ရောဂါရှာဖွေစမ်းသပ်ခန်းတွင် အသုံးပြုမည့် စက်ပစ္စည်းများနှင့် ဓာတ်ခွဲခန်းသုံး ဓါတုဗေဒပစ္စည်းများကို နိုင်ငံတကာစံနှုန်းများနှင့်အညီ တပ်ဆင်အသုံးပြုမှု မရှိခြင်းကြောင့် ဆေးရုံဝန်ထမ်းများ၊လူနာများနှင့်ပတ်ဝန်းကျင်ရှိပြည်သူများကို ဓါတ်ရောင်ခြည်သင့်မှုဖြစ်စေခြင်း၊

(ဂ) ရောဂါရှာဖွေစမ်းသပ်ရာမှ ထွက်ရှိလာသည့် စွန့်ပစ်အစိတ်အပိုင်းများ၊ ကူးစက်ရောဂါဖြစ်စေသော စွန့်ပစ်ပစ္စည်းများကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းခြင်းနှင့် အနီးပတ်ဝန်းကျင်ရှိပြည်သူလူထုအား ကူးစက်ရောဂါနှင့် ဘေးအန္တရာယ်များ ဖြစ်ပွားစေနိုင်ခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှု ပြဿနာများ ဖြစ်ပေါ်လာနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Nippon Sanshikai Medical Services Center Co., Ltd. မှ Private Clinic and Diagnosis Services ကိုဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဆောင်ရွက်ရမည့် လုပ်ငန်းများကို အောက်ပါအတိုင်း သဘောထားမှတ်ချက်ပြန်ကြားအပ်ပါသည် -

(က) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကိုပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility - CSR) အတွက် အသားတင်အမြတ်ငွေ၏ ၂% ကို အသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များကိုတိတိကျကျ လိုက်နာ အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ခ) အဆိုပြုလုပ်ငန်းကြောင့် ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမရှိစေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေရေးအတွက် **ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း (Initial Environmental**

**Examination-IEE)** ကိုဆောင်ရွက်ပြီး ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များပါအတိုင်း အစီရင်ခံစာရေးသားတင်ပြရန်။

(ဂ) အထက်ပါ လေ့လာဆန်းစစ်မှုရလဒ်များကိုအခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှု မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ် စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှု စစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးစေရေး ဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan - EMP)** ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်းအကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ဃ) စီမံကိန်းဆောင်ရွက်မည့်သူများအနေဖြင့် ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းနှင့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီစဉ်များ၊ အစီရင်ခံစာများရေးသားပြုစုရာတွင် ပြဋ္ဌာန်းထုတ်ပြန်ထားပြီးဖြစ်သော ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင် ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီလိုက်နာဆောင်ရွက်ရန်၊

(င) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက် မည့် နေရာဒေသတွင် နေထိုင်သော ဒေသခံပြည်သူများ၏ ဆန္ဒနှင့် သဘောထားများကိုလည်း ရယူဆောင်ရွက်ရန်။

၁၅/၁/၁၈

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

**မိတ္တူကို**

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ





ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

ကျန်းမာရေးနှင့်အားကစားဝန်ကြီးဌာန

ဝန်ကြီးရုံး

နောက်ဆက်တွဲ-ဂ

စာအမှတ်၊ ၁၂မခ(က)၂၀၁၇(၉၅၁)/ ၄၉၉၅

ရက်စွဲ၊၂၀၁၇ ခုနှစ်၊ မတ်လ(၁၄ )ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ သဘောထားမှတ်ချက်တောင်းခံခြင်းအပေါ် ညှိနှိုင်းပြန်ကြားခြင်း။

ရည်ညွှန်းချက် ။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၃၀-၁-၂၀၁၇)ရက်စွဲပါစာအမှတ်၊ မရက- ၅(အ)/န-၀၃၀/၂၀၁၇(၀၅၂)။

(၂) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၄-၂-၂၀၁၇)ရက်စွဲပါစာအမှတ်၊ မရက- ၅(အ)/န-၀၃၀/၂၀၁၇(၀၇၉)။

၁။ အထက်အကြောင်းအရာနှင့်ပတ်သက်၍ ဂျပန်နိုင်ငံ Social Medical Corporation Sanshikai မှ ၄၅%၊ ဂျပန်နိုင်ငံ Hoken Kagaku Kenkyujo မှ ၃၅% နှင့် မြန်မာနိုင်ငံသား ဦးအောင်ကျော်မြင့်မှ ၂၀% ထည့်ဝင်၍ မြန်မာနိုင်ငံတွင် Nippon Sanshikai Medical Services Center Co,.Ltd တည်ထောင်ကာ ရန်ကုန်တိုင်းဒေသကြီး၊ ဗဟန်းမြို့နယ်၊ မြေဝိုင်းရပ်ကွက်အမှတ်(၃၅/ဘီ)၊ မြေကွက်အမှတ်(၂)အရ မြေဧရိယာ(၀.၁၃၅)ကေပေါ်ရှိ အမှတ်(အီး-၂)၊ တက္ကသိုလ်ရိပ်မွန်(၂)လမ်း၊ ဗဟန်းမြို့နယ်ရှိ (၃)ထပ်လုံးချင်း အဆောက်အဦတွင် Private Clinic and Diagnosis Services (ပုဂ္ဂလိကဆေးကုခန်းနှင့် ရောဂါရှာဖွေစမ်းသပ်ရေးဆိုင်ရာ ဝန်ဆောင်မှုလုပ်ငန်း)အား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုနည်းဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် ရည်ညွှန်းချက်ပါစာဖြင့် ညှိနှိုင်းခဲ့ပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ ကုမ္ပဏီအနေဖြင့် ပုဂ္ဂလိကကျန်းမာရေးလုပ်ငန်းဆိုင်ရာဥပဒေ၊ နည်းဥပဒေများနှင့်အညီ ဆောင်ရွက်မည်ဆိုပါက ကန့်ကွက်ရန်မရှိပါကြောင်း၊ ပြည်တွင်း/ပြည်ပမှ ပညာရှင်များဖိတ်ခေါ်၍ ဆောင်ရွက်မည်ဆိုပါက မြန်မာနိုင်ငံဆေးကောင်စီ လုပ်ထုံးလုပ်နည်းများနှင့်အညီ ဆောင်ရွက်ရန်လိုအပ်ကြောင်း ညှိနှိုင်းပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)

(ပါမောက္ခဒေါက်တာသက်ခိုင်ဝင်း၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူကို-

ညွှန်ကြားရေးမှူးချုပ်၊ ကုသရေးဦးစီးဌာန

Exhibit ( 2 )

## NIPPON SANSHIKAI MEDICAL SERVICES CENTER COMPANY LIMITED

### LIST OF MEDICAL EQUIPMENTS & INSTRUMENTS ( BRAND NEW ) - TO BE IMPORTED

| SR. No. | Particular | A/U | QTY | Price in ( USD ) | Value in ( USD ) |
|---|---|---|---|---|---|
| 1 | Audiometer | NMB | 2 | 12,000 | 24,000 |
| 2 | Bone Densiometry | Set | 1 | 58,000 | 58,000 |
| 3 | ECG Machine | NMB | 2 | 850 | 1,700 |
| 4 | Ultrasound | NMB | 2 | 48,000 | 96,000 |
| 5 | Digital Mammogram | NMB | 1 | 250,000 | 250,000 |
| 6 | X-Ray Accessories | Set | 1 | 45,000 | 45,000 |
| 7 | X - Ray Machine | NMB | 1 | 62,000 | 62,000 |
| 8 | Digital X-Ray System | Set | 1 | 70,000 | 70,000 |
| 9 | Hospital Information System | NMB | 1 | 20,000 | 20,000 |
| 10 | X - Ray Data Sharing System | NMB | 1 | 6,500 | 6,500 |
| 11 | Laboratory Information System | NMB | 1 | 10,000 | 10,000 |
| 12 | Barcode , Printer , PC etc... | NMB | 1 | 4,000 | 4,000 |
| | **A Set Of Scopy** | | | | |
| 13 | Endoscopy ( Upper GI ) | NMB | 2 | 24,000 | 48,000 |
| 14 | Colonoscopy | NMB | 1 | 24,000 | 24,000 |
| 15 | Centrifuge | NMB | 2 | 4,500 | 9,000 |
| 16 | Microscope | NMB | 1 | 3,000 | 3,000 |
| 17 | Endo Scope Washer | Set | 1 | 25,000 | 25,000 |
| 18 | Height Weight Scale | Set | 1 | 5,000 | 5,000 |
| 19 | Vision Test Machine | Set | 1 | 5,000 | 5,000 |
| 20 | Blood Presser Machine | Set | 1 | 1,000 | 1,000 |
| 21 | Spitometer | | 1 | 2,000 | 2,000 |
| 22 | Fundus Machine | Set | 1 | 28,000 | 28,000 |
| 23 | Intra Ocular Pressure | Set | 1 | 30,000 | 30,000 |
| 24 | Endoscope Washer Cabinet | PCS | 1 | 25,000 | 25,000 |
| | **TOTAL** | | | | **852,200** |

မှတ်ချက်။ ။ အထက်ဖော်ပြပါစက်ပစ္စည်းများသည် Brand New စက်ပစ္စည်းများအဖြစ်တင်သွင်းမည်ဖြစ်ပါသည်။